# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)

ခွင့်ပြုမိန့် အမှတ်၊မနသ-၁၀၆၅/၂၀၁၅။ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမြင့်ရွှေ

(ခ) **အဘအမည်** ဦးစက်ဆန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဥကမ (နိုင်) ၁၄၄၆၅၆

(ဃ) **နေရပ်လိပ်စာ** အမှတ် ၁၅၄ (အေ)၊ မေယု (၅) လမ်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဘိလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ် ၁၀၊ ၁၂၊ ၁၄၊ မြေတိုင်းရပ်ကွက် အမှတ် ၂၄၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေဧရိယာ ၈.၀၃၈ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၄,၁၆၅.၇၇၄ သန်း (အမေရိကန်ဒေါ်လာ ၃.၁၅၇ သန်း အပါအဝင်) (ကျပ် သန်းပေါင်း လေးထောင့်တစ်ရာ ခြောက်ဆယ့်ငါးသန်းနှင့် ခုနှစ်သိန်း ခုနှစ်သောင်း လေးထောင်ခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၅၅ /၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၀ ရက်

၁။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်) အမည်ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄၊ မြေကွက်အမှတ် ၁၀၊ ၁၂၊ ၁၄ ရှိ မြေဧရိယာ ၃၂,၅၂၈.၆၆ စတုရန်းမီတာ (၈.၀၃၈ ဧက) တွင် ဘိလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်) ကို ဘိလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၆၅/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ)ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င)ဥပဒေပုဒ်မ ၂၀ (ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ)ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင်နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ)ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဍ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ (ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၈။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်

သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဗူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး) လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ San Kaung Bag Manufacturing Company Limited (စံကောင်းဘက်မန်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းနှင့် စက်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ / မ- ၁၁၉၃/ ၂၀၁၅ (၈၀၆-၁)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၆ ရက်

ဖြန့်ဝေခြင်း

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ San Kaung Bag Manufacturing Company Limited (စံကောင်း ဘက်မန်နျူ ဖက်ချားရင်း ကုမ္ပဏီလီမိတက်)

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော စံကောင်းဘက်မန်ချူဖက်ချာရင်း ကုမ္ပဏီလီမိတက်၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၃၁-၃-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃၀-၄-၂၀၁၅ | ၃၁-၅-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃၀-၄-၂၀၁၅ | ၂၂-၅-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၃၀-၄-၂၀၁၅ | ၁၉-၅-၂၀၁၅ | (ပ ကြိမ်) |
| | | ၁-၆-၂၀၁၅ | ၁၁-၆-၂၀၁၅ | (ဒု ကြိမ်) |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၁၄/၂၀၁၅) သို့ တင်ပြခြင်း | ၆-၄-၂၀၁၅ | | |
| ၄ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၃-၄-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ (၈) စုံ ပေးပို့ခြင်း | ၁၂-၆-၂၀၁၅ | | |
| ၆ | စုစုပေါင်းကြာမြင့်ရက် ၇၃ ရက် | | | |

အကြောင်းအရာ။ စံကောင်းဘက် မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်မှ ဘိလပ်မြေထည့်သောပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - စံကောင်းဘက် မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးမြင့်ရွှေ (အဘ- ဦးစက်ဆန်) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - စံကောင်းဘက် မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဘိလပ်မြေထည့်သောပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် ၁၀၊ ၁၁၊ ၁၄၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၅။ | မြေပိုင်ရှင် | - ဦးမြင့်ရွှေ၊ ဦးဆိတ်ကီး (ခ) ဦးဝင်းလှိုင် နှင့် ဒေါ်ကျင်ကျင် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၃၂,၅၂၈.၆၆ စတုရန်းမီတာ (၈.၀၃၈ ဧက) |
| | မြေငှားသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၉၇,၅၈၇,၀၀၀<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၃,၀၀၀ နှုန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄,၁၆၅.၇၇၄သန်း (US$ ၃.၁၅၇ အပါအဝင်) |
| | ထည့်ဝင်သည့် အမျိုးအစား | **ကျပ် (သန်း)** |
| | ငွေသား | ၇၀.၀၀၀ |
| | အဆောက်အဦ | ၈၇၀.၀၀၀ |
| | မော်တော်ယာဉ် (ပြည်တွင်း) | ၆၀.၀၀၀ |
| | စက်ပစ္စည်း (ပြည်ပ) | ၂၈၉၂.၀၀၀ (အမေရိကန်ဒေါ်လာ ၂.၈၉၂ သန်း) |
| | ကုန်ကြမ်း (Test Run)(ပြည်ပ) | ၂၆၄.၆၀၀ (အမေရိကန်ဒေါ်လာ ၀.၂၆၅ သန်း) |
| | ရုံးသုံးပစ္စည်း (ပြည်တွင်း) | ၉.၁၇၄ |
| | စုစုပေါင်း | ၄၁၆၅.၇၇၄ (အမေရိကန်ဒေါ်လာ ၃.၁၅၇ သန်းအပါအဝင်) |
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၄၂,၇၇၇.၅၈၆ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဋ္ဌမနှစ်) | - ကျပ် ၄၂,၁၈၀.၁၄၇ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၅၉၇.၄၃၉ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၁၉၉.၁၄၆ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၂,၁၃၈.၈၇၉ သန်း<br>(၁ US$ = ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။) |
| ၁၁။ | အရင်းကြေကာလ | - ၅ နှစ် |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၂.၄၈ % |
| ၁၃။ | ရောင်းချပုံ နည်းစနစ် | - ၁၀၀ % ပြည်တွင်းရောင်းချခြင်း |
| ၁၄။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (၆နှစ် မြောက်) | |
| | **အမျိုးအစား** | **ထုတ်လုပ်မှု အရေအတွက် (Pcs)** / **ရောင်းဈေးနှုန်း Kyat/ Pcs** |
| | Plastic Cement Bag | ၂၀၃,၇၀၂,၇၈၉ / ၂၁၀ |
| ၁၅။ | ဝန်ထမ်းအင်အား စုစုပေါင်း | - **၈၀၀ ဦး** |
| | ပြည်တွင်း | ၈၀၀ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၈၀၀,၀၀၀) |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁,၈၀၀,၀၀၀ kWh |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေး အစီအစဉ် | - အဆောက်အဦကို စနစ်တကျပုံစံရေးဆွဲ၍ လုံလောက်သည့် မီးတားလမ်းများ ထည့်သွင်းတည်ဆောက်မည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်း မီးသတ်ဆေးဗူးများ လုံလောက်စွာထားရှိမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများအား မီးသတ်ကာကွယ်ရေး သင်တန်းများသို့ စေလွှတ်သင်ကြားစေမည် ဖြစ်ပါကြောင်း၊ ဆေးလိပ်သောက်တတ်သည့်ဝန်ထမ်းများအတွက် သီးသန့် နေရာများ ထားရှိသွားမည် ဖြစ်ပါကြောင်း၊ ရေလှောင်ကန် များအတွင်း ရေအမြဲအပြည့်ရှိနေစေခြင်း၊ မီးသတ်ပိုက်များ အမြဲကောင်းမွန်စေခြင်း၊ မီးဘေးကြိုတင်အချက်ပေးစနစ်များ တပ်ဆင်ထားရှိခြင်းစသည်တို့ကို ဆောင်ရွက်ထားမည် ဖြစ်ပါ ကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | အခြား | - ငွေကြေးအထောက်အထားအဖြစ် စံကောင်းဘက်မန်နျူဖက် ချားရင်းကုမ္ပဏီလီမိတက် အမည်ဖြင့် ၃၀-၅-၂၀၁၅ နေ့တွင် ကမ္ဘောဇဘဏ်လီမိတက် (ဘုရင်နောင်ဘဏ်ခွဲ) ၌ ကျပ် ၁,၅၀၀,၀၀၀ နှင့် စံကောင်းအင်ဒတ် (စ်) ထရီလီမိတက်သည် ၁၆-၃-၂၀၁၅ နေ့တွင် Myanmar Apex Bank ၌ ကျပ် ၉၁၅.၄၆၇ သန်း၊ ၁၂-၃-၂၀၁၅ နေ့တွင် MICB ၌ US$ ၅၉၆,၀၀၀၊ ၁၆-၂-၂၀၁၅ နေ့တွင် US$ ၅၄,၀၈၅,၃၆၅ ရှိကြောင်း ထောက်ခံစာမိတ္တူတို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | စံကောင်းဘက် မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်မိတ္တူ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်းတို့ကို တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |
| ၂၀။ | စိစစ်တင်ပြချက် | - စံကောင်းအင်ဒတ်(စ်) ထရိလီမိတက် အမည်ဖြင့် ပလတ်စတစ်ပီနန်အိတ်များ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို ကော်မရှင် ခွင့်ပြုမိန့်အမှတ် မနသ-၀၄၅/၉၆ (၇-၁၁-၁၉၉၆) ဖြင့် လုပ်ငန်းဆောင်ရွက်နေပြီး ယခု စံကောင်းဘက်မန်နျူဖက်ချားရင်းကုမ္ပဏီလီမိတက် အမည်ဖြင့် ဘိလပ်မြေထည့်သောပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ထပ်မံရင်းနှီးမြှုပ်နှံခြင်း ဖြစ်ပါသည်။ စံကောင်းအင်ဒတ်(စ်)ထရိလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင် မိတ္တူ၊ ခွင့်ပြုမိန့်မိတ္တူ၊ ဘဏ်အထောက်အထားများကို တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - စံကောင်းဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဘိလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၁၀၊ ၁၂၊ ၁၄၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄၊ ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃၂,၅၂၈.၆၆ စတုရန်းမီတာ (၈.၀၃၈ ဧက) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄,၁၆၅.၇၇၄ သန်း (အမေရိကန်ဒေါ်လာ ၃.၁၅၇ သန်းအပါအဝင်) |
| အရင်းကြေကာလ | - ၅ နှစ် |
| IRR | - ၁၂.၄၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယား ဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၄၄.၆၀၀ သန်း | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၂၁၃၃.၀၇၆ သန်း |
| ၅ | ဝင်ငွေခွန် | ကျပ် ၃၈၀.၄၁၉ သန်း | ကျပ် ၉၉၅.၇၃၂ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၂၄၄.၀၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေကျပ်သိန်း (၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၄၄၇)ဦး |
| ၈ | CSR (၂%) | | ကျပ် ၆၆.၁၈၅ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၆၈၃.၁၀၉ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၈၀၀ ဦး<br>ပြည်တွင်းလုပ်သား(၈၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ကျပ် ၅၂၇.၁၇၉ သန်း | ကျပ် ၅၁၂၃.၂၆၇ သန်း |
| | | ၁ း ၉ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကဒ-၃/ မ-၁၁၉၃/၂၀၁၅( ၇၇၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၁၆ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ စံကောင်းဘက် မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ ဘိလပ်မြေထည့်သောပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ စံကောင်းဘက် မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄၊ မြေကွက်အမှတ် ၁၀၊ ၁၂၊ ၁၄ ရှိ မြေဧရိယာ ၈.၀၃၈ ဧက (၃၂,၅၂၈.၆၆ စတုရန်းမီတာ) တွင် ဘိလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြင့်ရွှေ (အဘ- ဦးစက်ဆန်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့်အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဖြစ်ပါသည်။ နှစ်စဥ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ ကျပ် ၉၇.၅၈၇ သန်း ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၃,၀၀၀ နှုန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာစုစုပေါင်း ကျပ် ၄,၁၆၅.၇၇၄ သန်း (US$ ၃.၁၅၇ သန်း) ဖြစ်ပြီး အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေသား | ၇၀.၀၀၀ |
| (ခ) | အဆောက်အဦ | ၈၇၀.၀၀၀ |
| (ဂ) | မော်တော်ယာဥ် (ပြည်တွင်း) | ၆၀.၀၀၀ |
| (ဃ) | စက်ပစ္စည်း (ပြည်ပ) | ၂၈၉၂.၀၀၀ ( အမေရိကန်ဒေါ်လာ ၂.၈၉၂ သန်း) |
| (င) | ကုန်ကြမ်း (Test Run)(ပြည်ပ) | ၂၆၄.၆၀၀ (အမေရိကန်ဒေါ်လာ ၀.၂၆၅ သန်း |
| (စ) | ရုံးသုံးပစ္စည်း (ပြည်တွင်း) | ၉.၁၇၄ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၄,၁၆၅.၇၇၄ |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၈၀၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောကုန်ချောများကို ၁၀၀ % ပြည်တွင်းရောင်းချ မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Pcs) | ရောင်းဈေးနှုန်း Kyat/Pcs |
|---|---|---|
| Plastic Cement Bag | ၂၀၃,၇၀၂,၇၈၉ | ၂၁၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၁,၀၀၀ ကျပ်နှုန်းဖြင့်တွက်ချက်ထားပါသည်-

| စဉ် | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၂,၇၇၇.၅၈၆ |
| (ခ) | အသုံးစရိတ် | ၄၂,၁၈၀.၁၄၇ |
| (ဂ) | အသားတင်အမြတ် | ၅၉၇.၄၃၉ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၉၉.၁၄၆ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂,၁၃၈.၈၇၉ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၂.၄၈ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ (၂၆-၅-၂၀၁၅) နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၂၆/၂၀၁၅ ဆုံးဖြတ်ချက်အပိုဒ် (၁၅) အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြား ထားပါသည်-

(၁) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းတို့ အပါ အဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်သွားရန်။

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်း ဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ရန်နှင့် လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်။

(၃) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင် သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ IEE အစီရင်ခံစာရေးဆွဲရန် တတိယအဖွဲ့အစည်းဖြစ်သည့် Green Enviro Services Ltd. သို့ အပ်နှံ ထားကြောင်း တင်ပြထားပါသည်။**

**နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** မီးလောင်လွယ်သည့် ပစ္စည်းများဖြစ်သဖြင့် ကုန်ကြမ်း၊ ကုန်ချော များအား စနစ်တကျ သိုလှောင်သိမ်းဆည်းရန်၊ ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိ မှု အချိုးအစားသင့်လျော်မှု ရှိပါကြောင်း၊ ကုန်ချောများအား ပြည်တွင်း/ ပြည်ပ ဖြန့်ဖြူးရောင်းချမည့် အစီအစဉ်ဖော်ပြထားခြင်း မရှိပါကြောင်း၊ အဝိက စက်ပစ္စည်း များ၏ Capacity ထည့်သွင်းဖော်ပြထားခြင်းမရှိပါသဖြင့် ထုတ်လုပ်မှုနှင့် စက်စွမ်း

အား ညီညွတ်ခြင်း ရှိ/ မရှိ စိစစ်နိုင်ခြင်း မရှိပါကြောင်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများစာရင်းတွင် ၅၀၀ KVA Generator with Synchronizing (14) Nos. ထည့်သွင်းဖော်ပြထားခြင်းအား အရေအတွက်များနေသဖြင့် ပြန်လည်စိစစ်တင်ပြရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ချက်များကို စက်မှုဝန်ကြီးဌာနမှ စိစစ်ပြီးလက်ခံပါသည်။** **နောက်ဆက်တွဲ (ဂ)**

၉။ ငွေကြေး အထောက်အထား အဖြစ် စံကောင်းဘဏ်မန်နေဂျူဖက်ချားရင်းကုမ္ပဏီလီမိတက် အမည်ဖြင့် ၃၀-၅-၂၀၁၅ နေ့တွင် ကမ္ဘောဇဘဏ်လီမိတက် (ဘုရင်နောင်ဘဏ်ခွဲ) ၌ ကျပ် ၁,၅၀၀,၀၀၀ ရှိကြောင်း ထောက်ခံစာမိတ္တူကို တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းချက်များကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအတွက် အဆောက်အဦကို စနစ်တကျပုံစံရေးဆွဲ၍ လုံလောက်သည့် မီးတားလမ်းများ ထည့်သွင်းတည်ဆောက်မည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်း မီးသတ်ဆေးဗူးများ လုံလောက်စွာထားရှိမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများအား မီးသတ်ကာကွယ်ရေး သင်တန်းများသို့ စေလွှတ်သင်ကြားစေမည် ဖြစ်ပါကြောင်း၊ ဆေးလိပ်သောက်သည့် သီးသန့်နေရာများ ထားရှိသွားမည် ဖြစ်ပါကြောင်း၊ ရေလှောင်ကန် များအတွင်း ရေအမြဲ အပြည့်ရှိနေစေခြင်း၊ မီးသတ်ပိုက်များ အမြဲကောင်းမွန်စေခြင်း၊ မီးဘေးကြိုတင်အချက်ပေးစနစ်များ တပ်ဆင်ထားရှိခြင်း စသည်တို့ကို ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်၊ တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင် ထားရှိမည်ဖြစ်ကြောင်း၊ ပြည်ပမှ ဝယ်ယူတပ်ဆင်ထားသည့် စက်ပစ္စည်းများသည် အသစ်များ ဖြစ်ပါ ကြောင်း၊ ကုမ္ပဏီ၏ ကျပ်ငွေစာရင်းနှင့် နိုင်ငံခြားသုံးငွေစာရင်းများကိုလည်း သက်ဆိုင်ရာ ငွေကြေးအမျိုးအစားအတွက် လုပ်ငန်းဆောင်ရွက်ခွင့်ရှိသည့်ဘဏ်များတွင် ဖွင့်လှစ်ထားရှိမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လူမှုဖူလုံရေးဥပဒေအရ ခံစားခွင့်များ ခံစားနိုင်ရေးနှင့် ကုမ္ပဏီအစီအစဉ်ဖြင့်လည်း သက်သာချောင်ချိရေးအစီအစဉ်များ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ သွားလာရေးလွယ်ကူစေရန်အတွက် ကြို/ပို့ယာဉ်များကိုလည်း စီစဉ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း၊ ထို့အပြင် ဝန်ထမ်းများ၏ ကျန်းမာရေး၊ သာရေးနာရေးနှင့် ဝန်ထမ်းသားသမီးများ၏ ပညာရေးကို ထိရောက်စွာ ထောက်ပံ့ပေးနိုင်သည့် အစီအစဉ်များဖြင့် ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း၊ ဝင်ငွေခွန်ပေး ဆောင်ခြင်းနှင့် ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေ တစ်နှစ်လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက် ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့်နှုန်းများအတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို အစိုးရ၏ မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ မီးမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်များဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၃။ စံကောင်းဘက်မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံတော်ရှိ လူမှုအဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂ % အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲ မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် ကျင်းပသော ၁၄/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ စံကောင်းဘက် မန်ချူဖက်ချားရင်း ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄၊ မြေကွက်အမှတ် ၁၀၊ ၁၂၊ ၁၄ ရှိ မြေဧရိယာ ၈.၀၃၈ ဧက (၃၂,၅၂၈.၆၆ စတုရန်းမီတာ) တွင် ဘီလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘော တူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

ရန်ကုန်တိုင်းဒေသကြီး၊ မြေကွက် အမှတ်(၁၀ ၊ ၁၂ ၊၁၄ )၊မြေတိုင်းရပ်ကွက်အမှတ် (၂၄)၊ငွေပင်လယ် စက်မှုဇုန် ၊ လှိုင်သာယာမြို့နယ်အတွင်း မြေဧရိယာ ၈. ၀၃၈ ဧက တွင် ဘိလပ်မြေထည့်သည့် ပလပ်စတစ်အိတ် အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အတွက် စက်ရုံတည်ဆောက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားခြင်းအတွက် အဆိုပြုလွှာ တင်သွင်း ခြင်း

စံကောင်း ဘက်မန်ချူဖက်ချားရင်း ကုမ္ပဏီ လီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ၊ San Kaung / MIC / 2015 (00 )
နေ့စွဲ ၊၂၀၁၅ ခုနှစ် ၊ ဇွန်လ ၊ ရက်

အကြောင်းအရာ။ ။စံကောင်းဘက် မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ မြေကွက် အမှတ် (၁၀၊၁၂၊ ၁၄) ၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ် စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေဧရိယာ ၈. ၀၃၈ ဧကတွင် ဘိလပ်မြေထည့်သည့် **ပလပ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက်မြန်မာနိုင်ငံ** သားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားခြင်းအတွက် အဆိုပြုလွှာ တင်သွင်းခြင်းကိစ္စ။

စံကောင်းဘက် မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **ဘိလပ်မြေထည့်သည့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏** Proposal Assessment Team (PAT) **အစည်းအဝေးသို့** တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ယခုအခါ** PAT **အစည်းအဝေး၏ လမ်းညွှန်ချက်များ အတိုင်းပြန်လည်ပြင်ဆင်ပြီးဖြစ်ပါ၍ ကော်မရှင်သို့ တင်ပြနိုင်ရန် အဆိုပြုလွှာများ နှင့်အတူတင်ပြအပ်ပါသည်။**

လေးစားစွာဖြင့်



ဦးမြင့်ရွှေ
အဆိုပြုဒါရိုက်တာ

**GREEN ENVIRO SERVICES LTD.**

No(1), Thitsar Yeik Thar Street, 12 Ward, Yankin Township, Yangon, Myanmar.
095-053-348, 095-096-601, greenenviroservices14@gmail.com

သို့

ဥက္ကဋ္ဌ၊

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၅ ခုနှစ်၊ ဇွန်လ (၈) ရက်

အကြောင်းအရာ ။ ။ <u>စံကောင်းဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ ဘိလပ်မြေထည့်သော ပလက်စတစ်အိတ် အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းစီမံကိန်းနှင့်ပတ်သက်၍ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်မည့် အသေးစိတ်အစီအစဉ်များ ရေးဆွဲမည့် အခြေအနေတင်ပြခြင်း။</u>

ရည်ညွှန်းချက်။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၈-၅-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ (ရက-၃/မ-၁၁၉၃/၂၀၁၅ (၆၉၈))</u>

စံကောင်းဘက်မန်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ မြေကွက်အမှတ်(၁၀/၁၂/၁၄)ရှိ မြေဧရိယာ(၈. ၀၃၈)ဧကပေါ်တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ဘိလပ်မြေထည့်သော ပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပါသည်။ ယင်းစီမံကိန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးစေမှုများ၊ လူမှုအကျိုးစီးပွားနှင့် ကျန်းမာရေးအပေါ် ထိခိုက်စေမှုများမရှိစေရန် (သို့မဟုတ်) နည်းပါးစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော်မီ သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု ရှိ-မရှိ ကြိုတင်ဆန်းစစ်လေ့လာခြင်း (Initial Environmental Examination-IEE) လုပ်ငန်းနှင့် အဆိုပါဆန်းစစ်လေ့လာတွေ့ရှိချက်များကိုအခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့်အစီအမံများပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၂၀၁၂-အရလည်းကောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနည်းဥပဒေများ ၂၀၁၄-အရလည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏စည်းမျဉ်းများ ၂၀၁၃-အရလည်းကောင်း၊ နိုင်ငံတကာစံချိန်စံညွှန်းနှင့်အညီ Green Enviro Services Ltd. ၏ကျွမ်းကျင်ပညာရှင်များပါဝင်သည့်အဖွဲ့မှ တာဝန်ယူလေ့လာဆန်းစစ်မှုများ ပြုလုပ်လျက်ရှိပါသည်။ အစီရင်ခံစာများကို ပြုစုရာတွင်-

- အဆိုပြုလုပ်ငန်းစီမံကိန်း၏ နောက်ခံအကြောင်းအရာများ၊ စီမံကိန်း၏ အနီးဝန်းကျင်ရှိ ရူပပတ်ဝန်းကျင်ဆိုင်ရာ အကြောင်းအချက်များ၊ သက်ရှိဇီဝဆိုင်ရာအကြောင်းအချက်များ၊ လူမှုစီးပွားဆိုင်ရာ အကြောင်းအရာများကို ကွင်းဆင်းလေ့လာဆောင်ရွက်သွားပါမည်။

- ကွင်းဆင်းလေ့လာဆောင်ရွက်ရာတွင်လည်း GIS နည်းပညာအသုံးပြု၍ မြေပုံထုတ်ခြင်း၊ မြေဆီလွှာနှင့် ရေနမူနာများယူ၍ စစ်ဆေးခြင်းများကိုပြုလုပ်ဆောင်ရွက်သွားပါမည်။
- သဘာဝပတ်ဝန်းကျင်သက်ရောက်နိုင်မှုနှင့် ထိခိုက်နိုင်မှုဆန်းစစ်လေ့လာရာတွင်လည်း အကြိုတည်ဆောက်မှု လုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍ လုပ်ငန်းအဆင့်အသီးသီးအလိုက် ယင်းစီမံကိန်း၏ ပတ်ဝန်းကျင်အပေါ်၊ လူမှုအကျိုးစီးပွားနှင့် ကျန်းမာရေးအပေါ် အကျိုးသက်ရောက်နိုင်မှုများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ချမှတ်ထားသော Guideline များကိုအခြေခံ၍ အသေးစိတ်လေ့လာဆန်းစစ် ဆောင်ရွက်သွားပါမည်။
- ပတ်ဝန်းကျင်ဆိုင်ရာ **စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲရာတွင်လည်း** အကြိုတည်ဆောက်မှုလုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍ လုပ်ငန်းအဆင့်အသီးသီးအလိုက် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့်အစီအမံများ၊ စီမံခန့်ခွဲမှုနှင့် စောင့်ကြပ်ကြည့်ရှုမည့်အစီအစဉ်များ၊ အရေးပေါ်အစီအစဉ် များကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှချမှတ်ထားသော **Guideline များကိုအခြေခံ၍ အသေးစိတ်ရေးဆွဲဆောင်ရွက်သွားပါမည်။**

**အစီရင်ခံစာအပြည့်အစုံကို ၂၀၁၅-ခုနှစ်၊ ဩဂုတ်လအတွင်း ပေးပို့တင်ပြသွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။**

လေးစားစွာဖြင့်၊

**ဒေါက်တာ ဝါဝါဟန်**
**Managing Director**
**Green Enviro Services Ltd.**

Green Enviro Services Ltd. No. Date

ပူးတွဲ (၁) လေ့လာဆန်းစစ်မှုပြုလုပ်သည့်အဖွဲ့တွင်ပါဝင်သည့် အဖွဲ့ဝင်များ

မိတ္တူကို-ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

No(1), Thitsar Yeik Thar Street, 12 Ward, Yankin Township, Yangon, Myanmar.
095-053-348, 095-096-601, greenenviroservices14@gmail.com


## Green Enviro Services Ltd.

### List of Directors

| Sr. No | Name | Designation |
|---|---|---|
| 1. | Dr. Wah Wah Han | Managing Director, Green Enviro Services Ltd. |
| 2. | Daw Phyu Sin Maung | Director, Green Enviro Services Ltd. |

### List of Advisors and Survey Team

| Sr. No | Name | Designation | Responsibility |
|---|---|---|---|
| [illegible] | Dr. Maung Aung<br>MA (Development Studies) ISS, Holland<br>Ph.D (Agriculture Economics) University of Washington, USA | Advisor,<br>Ministry of Commerce | Advisor,<br>Socio-Economic Expert |
| 2. | U Tin Maung Shwe | - Consultant, Agriculture Business & Rural Development (ARDC).<br>- Advisor, Ministry of Agriculture & Irrigation. (Former Myanmar Academy of Agriculture, Forestry, Livestock & Fisheries) | Advisor,<br>Agro-Business Expert |
| [illegible] | Dr. Saw Plei Saw<br>Ph.D, University of Putra, Malaysia | - President of Myanmar Veterinary Council;<br>- Advisor, Ministry of Livestock, Fisheries and Rural Development. (Former Myanmar Academy of Agriculture, Forestry, Livestock & Fisheries)<br>- Pro Rector of University of Veterinary Sciences. Retd. | Advisor,<br>Livestock Expert |

| | | | |
|---|---|---|---|
| 4. | Dr. Than Htun | - Ex. National Project Manager, (FAO MM of United Nations)<br>- Deputy Director General, (LBVD), Rtd. | Advisor, Agro-Livestock Expert |
| 5 | Daw Khin Aye Kyu | - Professor, Department of Chemistry, Pathein University, Retd. | Chemical Expert |
| 6. | U Khin Maung Htaey B.E (Civil), M.Env.E, P.E.Civil (Water Supply & Sanitation) | - National Counterpart (CQHP) | Water Supply and Sanitation Expert |
| 7. | Daw Moe Pyar Han | Lecturer, Department of Botany, Yangon University. (Rtd) | Bioterrestrial Expert. (Flora) |
| 8. | Dr. Aye Aye Than | Lecturer, Department of Zoology, Yangon University. | Bioterrestrial Expert. (Fauna) |
| 9. | Dr. Wah Wah Han | - National Consultant & Country Coordinator (PREVENT), Family Health International, (FHI 360), Emerging Pandemic Threats Program, USAID;<br>- Retd. Deputy Director, Research & Disease Control, LBVD.<br>- Managing Director, Green Enviro Services Ltd. | Socio-economic Survey Team |
| 10. | Daw Phyu Sin Maung | - Secretary General, MLRD Research Team.<br>- CEO, Green Enviro Services Ltd. | Socio-economic Survey Team |
| 11. | U Naing Lin Oo | - Program Manger, Agriculture Business & Rural Development Consultant (ARDC). | GIS Team |
| 12. | U Nyi Nyi Htoo | Team Member, Surveyor. | GIS Team |
| 13. | U Myo Min | Team Member, Surveyor. Electronic Services | GIS Team |

Green Enviro Services Ltd.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်။

ရက်စွဲ ။ ။ ၂၀၁၅ခုနှစ်၊ မတ်လ ( ၂၆ )ရက်။
စာအမှတ် ။ ။ ၀၀၁/ San Kaung -MIC/ ၂၀၁၅

**အကြောင်းအရာ ။ ။စံကောင်းဘက် မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် မှ မြေကွက် အမှတ် (၁၀ /၁၂ / ၁၄) ၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ် စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး ရှိ မြေဧရိယာ၈. ၀၃၈ဧကေတွင်ဘိလပ်မြေထည့်သည့်ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားခြင်းအတွက် အဆိုပြုလွှာ တင်သွင်းခြင်းကိစ္စ။**

အထက်ဖော်ပြပါကိစ္စရပ်နှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊ တိုင်းရင်းသား လုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော စံကောင်းဘက် မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် မှ မြေကွက် အမှတ် (၁၀ /၁၂ / ၁၄) ၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ် စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး ရှိ မြေဧရိယာ ၈. ၀၃၈ ဧကေတွင်ဘိလပ်မြေထည့်သည့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားခြင်း အတွက် အဆိုပြုလွှာ တင်သွင်းခြင်းကိစ္စရပ်နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံမှု အတွက်ခွင့်ပြုပေးပါရန် အဆိုပြုလွှာကို တင်သွင်းအပ်ပါသည်။

**ကနဦးစိစစ်မှုများ ပြုလုပ်နိုင်ရန် အဆိုပြုလွှာမိတ္တူသုံးစုံကို ပါထည့်သွင်းပေးပို့ ပါသည်။**

လေးစားစွာဖြင့်၊



ဦးမြင့်ရွှေ
အဆိုပြုဒါရိုက်တာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်။

ရက်စွဲ ။ ။ ၂၀၁၅ ခုနှစ်၊ မတ်လ ( ၂၆ ) ရက်
စာအမှတ် ။ ။ ၀၀၂/ *San kaung- MIC*/ ၂၀၁၅

အကြောင်းအရာ ။ ။စံကောင်းဘက် မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ မြေကွက် အမှတ် (၁၀/၁၂ / ၁၄)၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ် စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၈. ၀၃၈ ဧကတွင် ဘိလပ်မြေထည့်သည့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားခြင်းအတွက် အဆိုပြုလွှာ တင်သွင်းခြင်းကိစ္စ။

၁။ မြန်မာနိုင်ငံသားပိုင် စံကောင်းဘက် မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ မြေကွက်အမှတ် (၁၀/၁၂/၁၄)၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ် စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေဧရိယာ ၈. ၀၃၈ ဧက တွင် ဘိလပ်မြေထည့်သည့် ပလပ်စတစ် အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအတွက်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားခြင်းအတွက် အဆိုပြုလွှာတင်သွင်းအပ်ပါသည်။

၂။ စံကောင်း အင်ဒတ်(စ်)ထရီလီမိတက်သည် ပလပ်စတစ် ပီနန်အိတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား လုပ်ဆောင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ် မနသ - ၀၄၅ / ၉၆ (၇. ၁၁. ၁၉၉၆) တွင် ရရှိခဲ့ပါသည်။ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၂၈၁ / ၁၉၉၅ - ၁၉၉၆ ကိုလည်းရရှိပြီးဖြစ်ပါသည်။ထုတ်လုပ်မှုလုပ်ငန်းများကို(၁၉၉၇-၉၈)ခုနှစ်များတွင်စတင်လုပ်ဆောင်ခဲ့ပါသည်။လုပ်ငန်းစတင်သည့်နှစ်မှစ၍ (၂၀၁၃ - ၂၀၁၄) ခုနှစ် အထိ စုစုပေါင်း ကုန်သွယ်လုပ်ငန်းခွန် အနေဖြင့် ကျပ်သန်းပေါင်း (၂၈၇)ကျော်နှင့်ဝင်ငွေခွန်အဖြစ် ကျပ်သန်းပေါင်း (၃၉၈)သန်းကျော်ပေးဆောင်ပြီးဖြစ်ပါသည်။ဝန်ထမ်းအင်အား (၁၀၀၀)ကျော်ဖြင့် လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။

ယခုအခါဈေးကွက် လိုအပ်ချက်အရ သွင်းကုန် အစားထိုးထုတ်ကုန်ဖြစ်သည့် ဘိလပ်မြေထည့်သည့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအားစက်ရုံအမှတ်(၂) အဖြစ်မြေကွက်အမှတ် (၁၀/၁၂/၁၄)၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ်စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေကြီးတွင် လုပ်ဆောင်နိုင်ရန်အတွက် ထပ်မံ အဆိုပြုတင်ပြခြင်းဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းသည် ပလပ်စတစ် ဘိလပ်မြေအိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏ မှာ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများအပါအဝင် ကျပ်သန်းပေါင်း (၄၁၆၅)ကျော် ရင်းနှီးမြှုပ်နှံဆောင်ရွက် သွားမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ အလုပ်သမားများ ၈၀၀ကျော် ခန့်ကို ဘဝအာမခံချက်ရှိသည့် အလုပ်အကိုင်အခွင့်အလမ်း ဖန်တီး ပေးနိုင်မည်ဖြစ်ပါသည်။

၅။ အရည်အသွေးကောင်းမွန်သည့် သွင်းကုန်အစားထိုး ထုတ်ကုန်များကို အဆင်မြင့် ကောင်းမွန် သည့် စက်ကရိယာများ၊ စီမံခန့် ခွဲမှု၊ အရည်အသွေးထိမ်းချုပ်မှုတို့ ဖြင့် ထုတ်လုပ်ဆောင်ရွက်သွားမည်ဖြစ်သကဲ့သို့ ကုန် ထုတ်လုပ် ခြင်း မှ ပတ်ဝန်းကျင်ညစ်ညမ်းထိခိုက်မှု မရှိစေရန်အတွက် လုံလောက်သည့် အစီအမံများ ဆောင်ရွက် ထားရှိ ပါသည်။

၆။ မီးဘေးကာကွယ်ရေးအတွက်လည်းလုံလောက်သော အစီအမံများဆောင်ရွက်ထားရှိပါသည်။

၇။ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် နှင့်အတူမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရပေးအပ်သည့်အခွန် ကင်းလွတ် ခွင့် နှင့် သက်သာခွင့်များပါတစ်ပါတည်းလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြင့်ရွှေ
အဆိုပြုဒါရိုက်တာ

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်။

ရက်စွဲ ။ ။ ၂၀၁၅ခုနှစ်၊ မတ်လ (    )ရက်။
စာအမှတ် ။ ။ ၀၀၃ / San Kaung -MIC/ ၂၀၁၅

အကြောင်းအရာ ။ ။ စံကောင်း ဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှမြေကွက်အမှတ်(၁၀ /၁၂ / ၁၄) ၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ ငွေပင်လယ် စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၈. ၀၃၈ဧကတွင် ဘီလပ်မြေထည့်သည့်ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားခြင်းအတွက်အဆိုပြုလွှာ တင်သွင်း ခြင်း နှင့်စပ်လျဉ်း၍ မီးဘေးကာကွယ်မှု အစီအစဉ် ကိုတင်ပြခြင်း။

၁။ စံကောင်း ဘက်မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် မှ ဘီလပ်မြေထည့်သည့်ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အတွက် စံနစ်တစ်ကျ ပုံစံရေးဆွဲ၍ လုံလောက်သည့် မီးတားလမ်းများ ထည့်သွင်း တည်ဆောက်မည်ဖြစ်ပါသည်။

၂။ စက်ရုံအတွင်း မီးသတ်ဆေးဘူးများလုံလောက်စွာထားရှိခြင်းတို့ကို လုပ်ဆောင်သွားမည်ဖြစ်ပါသည်။ ထို့ပြင် အလုပ်သမားများအား မီးသတ်ကာကွယ်ရေး သင်တန်းများသို့စေလွှတ် သင်ကြားစေမည်ဖြစ်ပါသည်။ဆေးလိပ်သောက်တတ်သည့် ဝန်ထမ်းများအတွက် သီးသန့် နေရာများထားရှိသွားမည်ဖြစ်ပါသည်။

၃။ စက်ရုံမီးဘေးကာကွယ်ရေးအတွက် ရေလှောင်ကန်များအတွင်း ရေအမြဲအပြည့်ရှိနေစေခြင်း၊ မီးသတ်ပိုက်များ၊ အမြဲ ကောင်း မွန်နေစေခြင်း၊ မီးဘေးကြိုတင်အချက်ပေးစနစ်များ တပ်ဆင်ထားရှိခြင်း၊ အဆောက်အဦ ပတ်ဝန်းကျင်သစ်ရွက်ခြောက်များ မရှိစေခြင်း၊ လုပ်ငန်းသုံးစက်ဆီ၊ ချောဆီများ စနစ်တကျ ထိန်းသိမ်းထားရှိစေခြင်း၊ မီးခလုတ်များ မလိုအပ်သည့်အချိန်တွင် သေချာစွာပိတ်ထားစေခြင်း၊စသည်ဖြင့် ဆောင်ရွက်ထားပါမည်။

လေးစားစွာဖြင့်၊

ဦးမြင့်ရွှေ
အဆိုပြု ဒါရိုက်တာ

